ရက်စွဲ။ ၂၈-၂-၂၀၁၉

Southern Myanmar Development နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား ကုမ္ပဏီမှ တင်ပြလာခြင်း | | ၁၀-၁၂-၂၀၁၈ | - |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၁၇-၁၂-၂၀၁၈ (၄၀/၂၀၁၈) | | - |
| ၅ | မွန်ပြည်နယ် အစိုးရအဖွဲ့သို့ သဘောထားတောင်းခံခြင်း | ၂၁-၁၂-၂၀၁၈ | ၂၁-၁-၂၀၁၉ | ၃၁ ရက် |
| ၆ | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၁-၁၂-၂၀၁၈ | ၁၇-၁-၂၀၁၉ | ၂၇ ရက် |
| ၇ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၁-၁၂-၂၀၁၈ | ၁၆-၁-၂၀၁၉ | ၂၆ ရက် |
| ၈ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၁-၁၂-၂၀၁၈ | ၈-၁-၂၀၁၉ | ၁၈ ရက် |
| ၉ | စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၂၁-၁၂-၂၀၁၈ | ၁၀-၁-၂၀၁၉ | ၂၀ ရက် |
| ၁၀ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၄-၁၂-၂၀၁၈ | | - |
| ၁၁ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှလိုအပ်ချက်များကိုပြန်လည်ပေးပို့ခြင်း | | ၂၄-၁-၂၀၁၉ | - |
| ၁၂ | ကုမ္ပဏီမှ MIC (၂/၂၀၁၉) အစည်းအဝေးသို့ မတက်ရောက်နိုင်ခြင်း နှင့် MIC (၃/၂၀၁၉)အစည်းအဝေးတွင် agenda ပါဝင်ခြင်းမရှိပါ။ | | | - |
| ၁၃ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၄/၂၀၁၉ (၁၅-၃-၂၀၁၉) | | - |
| | စုစုပေါင်းကြာမြင့်ရက် | ၄၅ ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Southern Myanmar Development Company Limited

လုပ်ငန်းအမျိုးအစား Floating Storage Unit for Storage of LPG as Transit Point

PAT အကြိမ်/ရက်စွဲ ၄၀/၂၀၁၈ (၁၇-၁၂-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | သဘော်ဆိုက်ကပ်ထားရှိမည့် အစီအစဉ်အား တင်ပြသွားရန်။ | ပြီး | |
| ၂။ | အဆိုပြုလုပ်ငန်းအား သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်း၍ business plan နှင့် လုပ်ငန်းအမျိုးအစားကို ကော်မရှင်သို့ ပြန်လည်တင်ပြသွားရန်။ | ပြီး | |
| ၃။ | Floating Storage Unit ၏ လုံခြုံရေးကိစ္စ၊ အာမခံထားရှိမှု နှင့် အရေးပေါ်အခြေအနေတွင် ဆောင်ရွက်မှုအစီအစဉ်တို့ကို ပြန်လည်တင်ပြပေးရန်။ | ပြီး | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. မှ Floating Storage Unit for Storage of LPG as Transit Point လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - Southern Myanmar Development Co., Ltd.<br>- ဦးစိန်ဝမ်း<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Bedok Construction & Engineering Co., Ltd. (မြန်မာနိုင်ငံ) ၃၄%<br>Asiatech Power Pte. Ltd. (စင်ကာပူသမ္မတနိုင်ငံ) ၃၃%<br>Siam Gas Power Pte. Ltd. (စင်ကာပူသမ္မတနိုင်ငံ) ၃၃% |
| | လုပ်ငန်းအမျိုးအစား | - Floating Storage Unit for Storage of LPG as Transit Point |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီး midstream areas |
| ၃။ | ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၄။ | တည်ဆောက်မှုကာလ | - ၁၂လ |
| ၅။ | စုစုပေါင်း မတည်ငွေရင်းပမာဏ | - US$ ၅.၅ သန်း |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာ (၃၄%) | နိုင်ငံခြား (၆၆%) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၁.၁၅၀ | - | ၁.၁၅၀ |
| စက်ပစ္စည်း | ၀.၇၂၀ | ၃.၆၃၀ | ၄.၃၅၀ |
| **စုစုပေါင်း** | **၁.၈၇၀** | **၃.၆၃၀** | **၅.၅၀၀** |

| | | |
|---|---|---|
| ၆။ | ဝန်ဆောင်မှုပေးမည့်နှုန်းထား | - ပျမ်းမျှ သိုလှောင်ခ ၂.၅၀ US$/ တန်<br>- ပျမ်းမျှသိုလှောင်မည့်ပမာဏ ၅၂၈,၀၀၀ တန် |
| ၇။ | ဝန်ထမ်းခန့်ထားမှု(ပုံမှန်နှစ်) | ပြည်တွင်း / ပြည်ပ<br>ဦးရေ ၈၂ ဦး / -<br>အနိမ့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ်<br>အမြင့်ဆုံးလစာ ၄,၅၀၀,၀၀၀ ကျပ် |
| ၈။ | CSR | -Corporate Social Responsibility (CSR) အနေဖြင့် အသားတင်အမြတ်၏ ၂ % သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၅(စ)/ ၁-၀၁၉/၂၀၁၉( ၁၄၁ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ Floating Storage Unit for Storage of LPG as Transit Point လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ Bedok Construction & Engineering Co., Ltd. မှ ၃၄% ၊ စင်ကာပူသမ္မတနိုင်ငံ Asiatech Power Pte., Ltd. မှ ၃၃% နှင့် Siam Gas Power Pte., Ltd. မှ ၃၃% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Southern Myanmar Development Co., Ltd. တည်ထောင်ကာမွန်ပြည်နယ်၊ရေးမြို့နယ်(မြောက်ဘက်)၊သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီး midstream areas တွင် Floating Storage Unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင် ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် Bedok Construction & Engineering Co., Ltd.၊ Siam Gas Power Pte. Ltd. နှင့် Asiatech Power Pte. Ltd. တို့အကြား ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့ ရက်စွဲဖြင့်ချုပ်ဆိုထားသည့် shareholders agreement၊ FSU vessel နမူနာပုံများ၊ Location Map၊ Business Model နှင့် ဖက်စပ်ကုမ္ပဏီနှင့် Siam Gas Trading Private Limited တို့အကြား ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသည့် service agreement တို့အားတင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၂လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၅.၅ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | မြန်မာ (၃၄%) | နိုင်ငံခြား (၆၆%) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၁.၁၅၀ | - | ၁.၁၅၀ |
| စက်ပစ္စည်း | ၀.၇၂၀ | ၃.၆၃၀ | ၄.၃၅၀ |
| **စုစုပေါင်း** | **၁.၈၇၀** | **၃.၆၃၀** | **၅.၅၀၀** |

ကန့်သတ်

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်းများအား တည်ဆောက်ရေးကာလတွင် ၂၆၆ ဦးနှင့် လုပ်ငန်းလည်ပတ်စဉ်ကာလတွင် ၈၂ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၃၀၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၄,၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ပျမ်းမျှသိုလှောင်ခအဖြစ် LPG တစ်တန်လျှင် US$၂.၅၀ ဖြင့် ဝန်ဆောင်ခ ကောက်ခံသွားမည်ဖြစ်ပြီး ပျမ်းမျှတစ်နှစ်လျှင် တန်ချိန် ၅၂၈,၀၀၀ ဖြင့် လည်ပတ်သိုလှောင်သွား မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ ကုမ္ပဏီအနေဖြင့် LPG သိုလှောင်ထားရှိမည့် FSU အား စီမံခန့်ခွဲမှုကိုသာ လုပ်ကိုင်သွား မည်ဖြစ်ပြီး LPG သိုလှောင်ရာမှ ဝန်ဆောင်ခကိုသာ ရယူမည်ဖြစ်ပါသည်။ ဓာတ်ငွေ့တင်သင်္ဘော ကြီးများဖြင့် FSU သို့လာရောက်၍ LPG သိုလှောင်ခြင်း၊ ပြန်လည်သယ်ယူခြင်းများ လုပ်ဆောင် သွားမည်ဖြစ်ပြီး Siam Trading အနေဖြင့် ၉၀%အား ပြည်ပသို့တစ်ဆင့်ကုန်သွယ်ခြင်း (Transit) နှင့် ၁၀%အား ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများကို လုပ်ကိုင်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်သူများအနေဖြင့် ဈေးနှုန်းသက်သာစွာဖြင့် LPG အားသုံးစွဲလာနိုင်ပြီး နိုင်ငံတော်အနေဖြင့် ကုန်သွယ်ခြင်းမှရရှိသောအခွန်အခများ၊ ဆိပ်ကမ်းနှင့်သက်ဆိုင်သောအခွန်အခများ ရရှိမည်ဖြစ်ပါသည်။

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်း ခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားခဲ့ပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့မှ** အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း။

**နောက်ဆက်တွဲ-က**

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ** ကုမ္ပဏီအနေဖြင့် Very Large Gas Carrier (VLGC) သင်္ဘောကြီးများနှင့် LPG Feeder သင်္ဘောများဝင်/ထွက်သွားလာ ခြင်းနှင့် Cargo Operation လုပ်ငန်းများတွင် အန္တရာယ်ကင်းရှင်းရေးနှင့်လုံခြုံရေး အစီအမံများ၊ ရေထုညစ်ညမ်းမှု မဖြစ်ပွားစေရေးအစီအမံများ Risk Reduction Measures၊ Port Facility Security Planများ ရေးဆွဲတင်ပြသွားရန်နှင့် ရေကြောင်း ပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှ ထုတ်ပေးသည့် လုပ်ငန်းလိုင်စင်လျှောက်ထားရန် လိုကြောင်း။ (ကုမ္ပဏီမှလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ပြန်လည်တင်ပြထား ပါသည်။)

**နောက်ဆက်တွဲ-ခ**

(ဂ) **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်မည်ဆိုပါက ပတ်ဝန်းကျင်ဆိုင်ရာကိစ္စများ အပါ အဝင် ရေနံနှင့် ရေနံထွက်ပစ္စည်းဆိုင်ရာဥပဒေများနှင့် ကိုက်ညီရေးသက်ဆိုင်ရာ ဝန်ကြီး ဌာနများ၏ ခွင့်ပြုမိန့်/လိုင်စင်များကိုရယူဆောင်ရွက်သင့်ကြောင်း။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် ကိစ္စရပ်များအလိုက် သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဆိုပါက ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ကုမ္ပဏီမှ ပြည်ပနှင့်တင်ပို့ခြင်း/တင်သွင်းခြင်း/ တစ်ဆင့်

ဖြတ်သန်းတင်ပို့ခြင်း ကိစ္စရပ်များအပေါ်တွင်ဝန်ကြီးဌာနမှ သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြု ဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်း။

**နောက်ဆက်တွဲ-ဃ**

(င) **စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာနမှ** အဆိုပြုချက်၏အပိုဒ်၁၅ပါ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ဆိုင်ရာ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း။

**နောက်ဆက်တွဲ-င**

၉။ ငွေကြေးထောက်အထားအဖြစ် Southern Myanmar Development Co., Ltd. အမည်ဖြင့် Asia Green Development Bank တွင် ၂၆-၁၂-၂၀၁၈ ရက်စွဲဖြင့် US$ ၁၀၀,၀၅၆.၈၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၀/၂၀၁၈) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏အလုပ်သမားများအတွက်သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Co., Ltd. မှ Floating Storage Unit for Storage of LPG as Transit Point လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ- က




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်



စာအမှတ်၊ ၃၀၀ / ၃-၁ / အဖရ(မွန်)(၀၅၂)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁-၁၂-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက -၅(စ)/ခ-၀၁၉/၂၀၁၈(၄၄၆)

မြန်မာနိုင်ငံ Bedok Construction & Engineering Co.,Ltd. မှ (၃၄%)၊ စင်ကာပူ သမ္မတနိုင်ငံ Asiatech Power Pte.Ltd. မှ (၃၃%) နှင့် Siam Gas Power Pte.Ltd.မှ (၃၃%) အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Southern Myanmar Development Co.,Ltd. တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Southern Myanmar Development Co.,Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခဲ့ခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဒေါက်တာအေးဇံ
ဝန်ကြီးချုပ်

မိတ္တူကို

ဆိုက်ပျိုးမွေးမြူရေးနှင့် ပို့ဆောင်ဆက်သွယ်ရေးဝန်ကြီး
လျှပ်စစ်၊ စွမ်းအင်နှင့်စက်မှုဝန်ကြီး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
မော်လမြိုင်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Southern Myanmar Development Co.,Ltd
လှည့်လည်စာတွဲ / ရုံးလက်ခံ

D/ war/ Epa2 -133

နောက်ဆက်တွဲ-ခ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃) /(Port-MPA)/၂၀၁၉( ၁၄၄ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၁၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/ခ-၀၁၉/၂၀၁၈(၄၄၄)

၁။ Southern Myanmar Development Co., Ltd. က ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် အဆိုပြုချက်ပါလုပ်ငန်းအား ကန့်ကွက်ရန်ရှိ-မရှိ ဆောင်ရွက်မည့်လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြား ပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာသည့် ကိစ္စ ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Southern Myanmar Development Co., Ltd. မှ အဆိုပြု တင်ပြထားသော လုပ်ငန်းပုံစံ သည် ကုမ္ပဏီအနေဖြင့် မည်သည့်ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်မျှရှိသည့် လုပ်ငန်းမဟုတ်ကြောင်း စိစစ်တွေ့ရှိရပြီး အလုပ်အကိုင်အခွင့်အလမ်းများနှင့် နည်းပညာပိုင်းဆိုင်ရာ အတွေ့အကြုံများ ရရှိနိုင်မည့် လုပ်ငန်းစီမံကိန်းမဟုတ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ထို့ကြောင့် Southern Myanmar Development Co., Ltd. မှ အဆိုပြုတင်ပြထားသော လုပ်ငန်းစီမံကိန်းသည် နိုင်ငံတော်၏ ပိုင်နက်ရေပြင်အတွင်း VLGC သင်္ဘောကြီး အမြဲတမ်း ကျောက်ချထားရှိပြီး ပတ်ဝန်းကျင်နိုင်ငံများသို့ Lighter Vessel များဖြင့် Ship to Ship Transfer လုပ်ငန်းဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။ စီမံကိန်းဆောင်ရွက်မည့် ဧရိယာအတွင်းရှိ ဒေသခံ ပြည်သူများအပေါ် အကျိုးသက်ရောက်မှုနှင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးနိုင်ခြေ သုံးသပ်ချက် အစီရင်ခံစာ (EIA/SIA Report) များအား သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်းလည်း စိစစ်တွေ့ရှိရပါသည်။

၄။ Floating Storage Unit for Storage of LPG as Transit Point စီမံကိန်း အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် အောက်ပါ သတ်မှတ်ချက်များအပေါ် လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း တွေ့ရှိရပါသည် -

(က) VLGC သင်္ဘောကြီးများနှင့် LPG Feeder သင်္ဘောများ ဝင်/ထွက်သွားလာခြင်းနှင့် Cargo Operation လုပ်ငန်းများတွင် အန္တရာယ်ကင်းရှင်းရေးနှင့် လုံခြုံရေးအတွက် မည်သို့ဆောင်ရွက် စီမံထားရှိမည်ကို တင်ပြရန်၊

(ခ) Southern Myanmar Development Co., Ltd. အနေဖြင့် စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် VLGC သင်္ဘောကြီးများကြောင့်လည်းကောင်း၊ LPG Feeder များကြောင့်လည်းကောင်း၊ Liquefied Petroleum Gas (LPG) များကြောင့်လည်းကောင်း၊ ရေထုညစ်ညမ်းမှု မဖြစ်ပွားစေရေးအတွက် မည်ကဲ့သို့ စီမံဆောင်ရွက်ထားရှိမည်ကို တင်ပြရန်၊

(ဂ) ရေကြောင်းအန္တရာယ်ကင်းရှင်းရေး၊ လုံခြုံရေးနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေး ကိစ္စရပ်များနှင့်ပတ်သက်၍ မတော်တဆမှုများဖြစ်ပွားလာပါက ထိခိုက်ပျက်စီးမှု အနည်းဆုံးဖြစ်အောင်လျှော့ချရေးအတွက် စီမံဆောင်ရွက်မှုများ (Risk Reduction Measures) ရေးဆွဲထားရှိရန်၊

(ဃ) မတော်တဆမှုများ ဖြစ်ပေါ်လာပါက ပျက်စီးဆုံးရှုံးမှုများအတွက် လျော်ကြေးဆိုင်ရာအစီအမံများ (Insurance Scheme) ထားရှိရန် လိုအပ်မည်ဖြစ်ပြီး ISPS Code အရ ဆိပ်ကမ်း လုံခြုံရေးဆိုင်ရာစီမံချက် (Port Facility Security Plan) ရေးဆွဲ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) မြန်မာ့ကမ်းရိုးတန်းနှင့် ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေး လုပ်ငန်း လုပ်ကိုင်ခွင့်ဥပဒေ ပုဒ်မ ၃၀၊ ပုဒ်မခွဲ(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်ကို ကျင့်သုံး၍ ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာအမှတ် (၅၄/၂၀၁၇)၊ အပုဒ် ၂(င)အရ မြန်မာနိုင်ငံသား လုပ်ငန်းရှင်များ လုပ်ကိုင်နိုင်ခြင်းမရှိသည့် လုပ်ငန်းများ၌ အသုံးပြုမည့် နိုင်ငံခြားရေယာဉ် တစ်မျိုးမျိုးကို အထူးကိစ္စရပ်အနေဖြင့် သက်တမ်းသုံးလထက်မပိုသော လုပ်ငန်းလိုင်စင်ထုတ်ပေးရာတွင် တစ်ကြိမ်ထုတ်ပေးခြင်းအတွက် လုပ်ငန်းလိုင်စင်ကြေး (၁၀၀၀၀၀၀)ကျပ် ဟု ပါရှိရာ Southern Myanmar Development Co.,Ltd အနေဖြင့် လုပ်ငန်းလိုင်စင်လျှောက်ထားရန်၊

၅။ အထူးသဖြင့် Southern Myanmar Development Co., Ltd. မှ ကုလားဂုတ်ကျွန်း အတွင်းပိုင်း ရေပြင်တွင် LPG တင်ဆောင်ထားသည့် Very Large Gas Carrier(VLGC) သင်္ဘောကြီးတစ်စီးအား အမြဲတမ်း ကျောက်ချထားရှိကာ Floating Storage Unit (FSU) အဖြစ် အသုံးပြု၍ အာရှဒေသတွင်းနိုင်ငံများသို့ LPG ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်မည့်အပေါ် ဒေသခံ ပြည်သူများ၏ သဘောတူညီချက်ရယူရန် လိုအပ်မည်ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ Southern Myanmar Development Co., Ltd. က ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် အထက်စာပိုဒ် (၃)၊(၄) နှင့် (၅) ပါ အချက်များနှင့်အညီဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- ရေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

နောက်ဆက်တွဲ-ဂ

| | |
|---|---|
| ဝင်စာအမှတ် | M4-1344 |
| ရက်စွဲ | 18-1-2019 |

စာအမှတ်၊MOEE-၂/(၁၅)/(သဘောထား)/( ၈၃၅ )/၂၀၁၉
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ ဇန်နဝါရီလ ၁၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ခ-၀၁၉/ ၂၀၁၈(၄၄၅)

၁။ မြန်မာနိုင်ငံ Bedok Construction& Engineering Co.,Ltd မှ ၃၄%၊ စင်ကာပူ သမ္မတနိုင်ငံ Asiatech Power Pte.Ltd မှ ၃၃% နှင့် Siam Gas Power Pte. Ltd မှ ၃၃% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Southern Myanmar Development Co.,Ltd တည်ထောင်ပြီး၊ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်ရှိ၊ မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ Southern Myanmar Development Co.,Ltd အနေဖြင့် Floating Storage unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်မည်ဆိုပါက သဘာဝပတ်ဝန်းကျင်ဆိုင်ရာကိစ္စများအပါအဝင် ရေနံနှင့်ရေနံထွက်ပစ္စည်းဆိုင်ရာဥပဒေများနှင့်ကိုက်ညီရေး သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုမိန့်/ လိုင်စင်များကို ဦးစွာရယူဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

ဝင်စာအမှတ်
ရက်

နောက်ဆက်တွဲ- ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/၄ -၁၂ / ၂၀၁၉ ( ၂၄ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၊ ၈ ၊ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက(ဒ)/ခ-၀၁၉/၂၀၁၈ (၄၄၃)

၁။ မြန်မာနိုင်ငံ Bedok Construction & Engineering Co., Ltd မှ ၃၄ % ၊ စင်ကာပူ သမ္မတနိုင်ငံ Asiatech Power Pte. Ltd မှ ၃၃% နှင့် Siam Gas Power Pte. Ltd မှ ၃၃% အစုရှယ်ယာ ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Southern Myanmar Development Co., Ltd တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ် (မြောက်ဘက်) ၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၉ အရ အဆိုပြုချက်အား လက်ခံသည့်နေ့မှ ရက်ပေါင်း (၆၀) အတွင်း ခွင့်ပြုမိန့်ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုချက်ပါလုပ်ငန်း၏ re-export (သို့မဟုတ်) transit ဆောင်ရွက်ရမည့်ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Southern Myanmar Development Co., Ltd မှ Floating Storage Unit for Storage of LPG as Transit Point လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထား အကြံပြုအပ်ပါသည်-

(က) မြန်မာ့ရေပိုင်နက်အတွင်း ဆိပ်ကမ်းငယ်တစ်ခု တည်ဆောက်မည်ဖြစ်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ခွင့်ပြုချက်ရယူရန် လိုအပ်ခြင်း၊ international maritime conventions များနှင့်အညီ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ သတ်မှတ်လုပ်ထုံးလုပ်နည်းများအား လိုက်နာရန် လိုအပ်ခြင်း၊

(ခ) စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၏ ကုန်တင်ကုန်ချဆိပ်ကမ်းအဖြစ် သတ်မှတ်သော အတည်ပြုမိန့်ရရှိရန် လိုအပ်ခြင်း၊

(ဂ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏သဘောတူခွင့်ပြုချက်ရရှိရန်လိုအပ်ခြင်း၊

(ဃ) မြန်မာနိုင်ငံရေကြောင်းရဲတပ်ဖွဲ့နှင့် တပ်မတော်(ရေ)၏သဘောထားမှတ်ချက်များ ရယူရန် လိုအပ်ခြင်း၊

(င) ပင်လယ်တွင်းသဘာဝပတ်ဝန်းကျင်နှင့် ဇီဝမျိုးစုံအရင်းအမြစ်များ လုံခြုံမှုဆိုင်ရာ ကိစ္စရပ်များအတွက် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရယူရန်လိုအပ်ခြင်း၊

(စ) Storage သင်္ဘောသို့ လာရောက်၍ ပစ္စည်းတင်ဆောင်ခြင်း၊ အခြားသင်္ဘောများပေါ်သို့ ပစ္စည်းပြောင်းရွှေ့တင်ဆောင်ခြင်းများကို ကြီးကြပ်စစ်ဆေး၍ အခွန်ကောက်ခံနိုင်ရန် အကောက်ခွန်ဦးစီးဌာနမှ အရာထမ်းအား တွဲဘက် တာဝန်ချထားပေးနိုင်မှု ရှိ/မရှိ သဘောထားမှတ်ချက် ရယူရန်လိုအပ်ခြင်း၊

(ဆ) Storage သင်္ဘောနှင့် ကုန်ပို့/ကုန်ပြောင်းရွှေ့တင်ဆောင်မည့် သင်္ဘောများအတွက် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန ရေကြောင်းဦးစီးဌာနတွင် မှတ်ပုံတင်ရန် လိုအပ်ခြင်းရှိ/မရှိ သဘောထားမှတ်ချက်တောင်းခံရန် လိုအပ်ခြင်း၊

(ဇ) Storage သင်္ဘောနှင့် ကုန်ပို့/ကုန်ပြောင်းရွှေ့တင်ဆောင်မည့် သင်္ဘောများတွင် နိုင်ငံခြားသားများ ပါရှိလာမည်ဖြစ်ခြင်းကြောင့် အလုပ်သမားရေးရာကိစ္စများနှင့် ပတ်သက်၍ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရယူရန် လိုအပ်ခြင်း၊

(ဈ) LPG Gas များတင်သွင်းခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းများအတွက် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုချက်/သဘောထားမှတ်ချက်ရယူရန် လိုအပ်ခြင်း။

၃။ သို့ဖြစ်ပါ၍ Southern Myanmar Development Co.,Ltd မှ Floating Storage Unit for Storage of LPG as Transit Point လုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ (လုပ်ငန်းဆောင်ရွက်မည့်ကိစ္စရပ်များအလိုက် အထက် အပိုဒ် ၂ ဖော်ပြပါ သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဆိုပါက ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိပါကြောင်း၊ နှင့် အဆိုပါကုမ္ပဏီမှ ပြည်ပနှင့် တင်ပို့ခြင်း/ တင်သွင်းခြင်း/ တစ်ဆင့်ဖြတ်သန်းတင်ပို့ခြင်း ကိစ္စရပ်များအပေါ်တွင် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြုဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း) ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ရန်နိုင်ထွန်း၊ အမြဲတမ်းအတွင်းဝန် )

နောက်ဆက်တွဲ-င



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စဘ/ဘဏ္ဍာ-၁/၃/၁(၂၁၇ /၂၀၁၉)
ရက်စွဲ ၊ ၂ ၀ ၁ ၉ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ခ-၀၁၉/၂၀၁၈(၄၄၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ Bedok Construction & Engineering Co.,Ltd မှ ၃၄%၊ စင်ကာပူသမ္မတနိုင်ငံ Asiatech Power Pte. Ltd မှ ၃၃% နှင့် Siam Gas Power Pte.Ltd မှ ၃၃% အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Southern Myanmar Development Co.,Ltd တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်(မြောက်ဘက်)၊ သပြေကျေးရွာနှင့် ကုလားကုတ်ကျွန်းအနီးတွင် Floating Storage unit for Storage of LPG as Transit Point အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်ကိစ္စနှင့်စပ်လျဉ်း၍ တင်ပြလာသည့် အဆိုပြုချက်ပါ လုပ်ငန်းဆိုင်ရာ အကောက်ခွန်နှင့် အခွန်ပိုင်းဆိုင်ရာကိစ္စရပ်များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းလာသည့်ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါ အဆိုပြုချက်၏ အပိုဒ် ၁၅ ပါ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

10/1/2019

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းထွန်းနိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

1-3-1/2019/ Other / YeeMon / Jan /10